ကုမ္ပဏီအမည် - GAC (Myanmar) Limited

လုပ်ငန်း - ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် အာရေဗီးကား ကော်ဖီစေ့နှင့် ဟင်းသီးဟင်းရွက်မျိုးစေ့များ ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း

| စဉ် | အကြောင်းအရာ | ဆောင်ရွက်သည့်နေ့စွဲ | ပြန်ကြားချက်ရရှိသည့်နေ့စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | အဆိုပြုလွှာ လက်ခံရရှိခြင်း | ၁၁-၁၀-၂၀၁၆ | | |
| ၂ | အဆိုပြုချက် စိစစ်ရေးအဖွဲ့ အစည်းအဝေး (၃၈/၂၀၁၆) သို့ တင်ပြခြင်း | ၁၇-၁၀-၂၀၁၆ | | |
| ၃ | အဆိုပြုလွှာလက်ခံကြောင်းစာ ပေးပို့ခြင်း | ၂၀-၁၀-၂၀၁၆ | | |
| ၄ | သဘောထားမှတ်ချက် တောင်းခံခြင်း<br>(က) မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့<br>(၁) ပထမအကြိမ်<br>(၂) ဒုတိယအကြိမ်<br>(၃) တတိယအကြိမ်<br>(၄) စတုတ္ထအကြိမ်<br>(ခ) ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန<br>(ဂ) စိုက်ပျိုးရေးမွေးမြူရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန | <br><br>၂၅-၁၀-၂၀၁၆<br>၈-၁၁-၂၀၁၆<br>၂၈-၁၂-၂၀၁၆<br>၂၄-၂-၂၀၁၇<br>၂၀-၁၀-၂၀၁၆<br><br>၂၅-၁၀-၂၀၁၆ | <br><br><br><br><br>၂၈-၃-၂၀၁၇<br>၂၇-၁၀-၂၀၁၆<br><br>၁၅-၁၁-၂၀၁၆ | |
| ၅ | မြေအသုံးပြုခွင့် တင်ပြခြင်း<br>(က) ကော်မရှင်အစည်းအဝေး ()သို့တင်ပြခြင်း<br>(ခ) ပြည်ထောင်စုအစိုးအဖွဲ့၏ ()သို့တင်ပြခြင်း | | | |
| ၆ | MIC သို့ တင်ပြရန် ကုမ္ပဏီမှ အဆိုပြုလွှာ (၈)စုံ လက်ခံရရှိ | | | |
| ၇ | စုစုပေါင်း ကြာမြင့်ရက် | ၂၁၀ ရက် | | |

| | |
|---|---|
| ကုမ္ပဏီအမည် | - GAC (Myanmar) Limited |
| အဖွဲ့အစည်းပုံသဏ္ဍာန် | - ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု |
| လုပ်ငန်းအမျိုးအစား | - အာရေဗီကားကော်ဖီစေ့နှင့် ဟင်းသီးဟင်းရွက်မျိုးစေ့များ ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်း |
| တည်နေရာ | - ဦးပိုင်အမှတ် ၁၃၁-ဓ၊ ကွင်းအမှတ် ၆၈၉၊ သက္ကံ-ချိုင်းကျေးရွာအုပ်စု၊ ပြင်ဦးလွင်မြို့နယ်၊ ပြင်ဦးလွင်ခရိုင်၊ မန္တလေးတိုင်းဒေသကြီးရှိ မြေ ၄၆.၈၆ ဧက |
| စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | - အမေရိကန်ဒေါ်လာ ၁.၀၀ သန်း |
| လုပ်ငန်းသက်တမ်း | - ကနဦး (၃၀)နှစ်နှင့် သက်တမ်းတိုး ၁၀ နှစ် ၂ ကြိမ် |
| အရင်းကြေကာလ | - ၆ နှစ် ၇လ |
| IRR | - ၂၀% |

အထက်ပါလုပ်ငန်းဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်၏ Cost & Benefit ကို အောက်ပါဇယားဖြင့် ပြုစုတင်ပြအပ်ပါသည်-

| စဉ် | အကြောင်းအရာ | Cost (ကျပ်သန်း) | Benefit (ကျပ်သန်း) |
|---|---|---|---|
| ၁ | နိုင်ငံ့ဝန်ထမ်းလစာ(တစ်နှစ်) | ၂.၁၆၀ | |
| ၂ | ကုမ္ပဏီမှတ်ပုံတင်ကြေး | | ၀.၆၆၅ |
| ၃ | သွင်းကုန်အခွန်ကင်းလွတ်ခွင့် | ၁၁.၉၄ | - |
| ၄ | ဝင်ငွေခွန် | ၂၁၉.၉၀၆ | ၅၂၄.၀၇၉ |
| ၅ | ကုန်သွယ်လုပ်ငန်းခွန် | - | - |
| ၆ | လျှပ်စစ်မီးသုံးစွဲခ | - | ၂.၄၆၉ |
| ၇ | လုပ်ခလစာအပေါ်ဝင်ငွေခွန် | - | ဝင်ငွေခွန်ဥပဒေအတိုင်း ထမ်းဆောင်ပါမည်။ |
| ၈ | CSR (၂%) | | ၁၁.၉၃၀ |
| ၉ | အလုပ်အကိုင်အခွင့်အလမ်း | | ပြည်တွင်းဝန်ထမ်း ၂၂ဦး အလုပ်အကိုင်ရရှိမည် ဖြစ်ပါသည်။ |
| ၁၀ | စုစုပေါင်း | ၂၃၄.၀၀၆ | ၅၃၉.၁၄၃ |
| ၁၁ | Cost : Benefit | ၁ : ၂ | |

အကြောင်းအရာ။ ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် GAC (Myanmar) Limited မှ အာရေဗီကား ကော်ဖီစေ့နှင့် ဟင်းသီးဟင်းရွက်မျိုးစေ့များ ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြု တင်ပြ လာခြင်းကိစ္စ

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/ | - GAC (Myanmar) Limited |
| | ကမကထပြုသူ | - ဒေါ်ခိုင်လင်း (ဒါရိုက်တာ) |
| | အဖွဲ့အစည်းပုံသဏ္ဍာန် | - ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု<br>Mr. Berry Chang ၈၀ % (ထိုင်ဝမ်)<br>ဒေါ်ခိုင်လင်း ၁၀ % (မြန်မာ)<br>ဒေါ်ဥမ္မာဟိန်း ၁၀ % (မြန်မာ) |
| | လုပ်ငန်းအမျိုးအစား | - အာရေဗီကားကော်ဖီစေ့နှင့် ဟင်းသီးဟင်းရွက်မျိုးစေ့များ ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း |
| ၂။ | တည်နေရာ | - ဦးပိုင်အမှတ် ၁၃၁-ဇ၊ ကွင်းအမှတ် ၆၈၉၊ သက္ကံ-ချိုင်း ကျေးရွာအုပ်စု၊ ပြင်ဦးလွင်မြို့နယ်၊ ပြင်ဦးလွင်ခရိုင်၊ မန္တလေး တိုင်းဒေသကြီး |
| | မြေပိုင်ရှင် | - ဒေါ်ဥမ္မာဟိန်း |
| | မြေအကျယ်အဝန်း | - ၄၆.၈၆ ဧက၊ (၁၈၉၆၃၅.၈၆ စတုရန်းမီတာ) |
| ၃။ | မြေ ငှားရမ်းခနှုန်း | - တစ်နှစ်မြေငှားရမ်းခ US$ ၄၀၀၀ |
| | မြေငှားရမ်းကာလ | - ၃၀ နှစ် ၁၀ နှစ် ၂ ကြိမ် |
| ၄။ | လုပ်ငန်းသက်တမ်း | - ၃၀ နှစ်နှင့် သက်တမ်းတိုး ၁၀နှစ် ၂ကြိမ် |
| | တည်ဆောက်ရေးကာလ | - ၆ လ |
| ၅။ | စုစုပေါင်းမတည်ငွေရင်းပမာဏ | - US$ ၁.၀၀သန်း |

| | | | US$ (သန်း) |
|---|---|---|---|
| | ပြည်တွင်း | ပြည်ပ | စုစုပေါင်း |
| ငွေသား | ၀.၁၉၆ | ၀.၆၀၁ | ၀.၇၉၇ |
| စက်ပစ္စည်း၊ကိရိယာများ | - | ၀.၁၉၉ | ၀.၁၉၉ |
| မြေငှားရမ်းခ | ၀.၀၀၄ | - | ၀.၀၀၄ |
| စုစုပေါင်း | ၀.၂၀၀ | ၀.၈၀၀ | ၁.၀၀၀ |

| | | |
|---|---|---|
| ၆။ | ဝန်ထမ်းအင်အား | - ၁၈ ဦး |
| | ပြည်တွင်း | - ၁၈ ဦး (ပြည်တွင်းဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ ကျပ် ၁၂၀,၀၀၀ ဖြစ်ပြီး အမြင့်ဆုံးလစာမှာ ကျပ် ၅၀၀,၀၀၀ ဖြစ်ပါသည်။) |
| | ပြည်ပ | - မရှိပါ ။ |
| ၇။ | ရောင်းချမည့်စနစ် | - ပြည်ပသို့ ၁၀၀% တင်ပို့ရောင်းချမည်ဖြစ်ပါသည်။ |
| ၈။ | နှစ်စဉ်ထုတ်လုပ်မှု ပုံမှန်နှစ် | စဉ် ပစ္စည်း အမျိုးအစား / အရေအတွက် / ထုတ်လုပ်မှု / ရောင်းချမည့်ဈေးနှုန်း (US$/Viss)<br>(က) Coffee Seeds<br>- Dry Coffee / Viss / ၁,၁၃၃ / ၅.၅၃<br>(ခ) Vegetable Seeds (US$/ Kg)<br>Chili / Kg / ၂,၅၀၀ / ၆၀<br>Okra / Kg / ၁,၅၀၀ / ၆၀<br>Cucumber / Kg / ၁,၅၀၀ / ၆၀<br>Bitter Gourd / Kg / ၂,၀၀၀ / ၆၀<br>Tomato / Kg / ၂,၅၀၀ / ၆၀ |
| ၉။ | ကုမ္ပဏီ၏ဝင်ငွေ(ဆဋ္ဌမနှစ်မြောက်) | - ကျပ် ၉၃၇.၆၀ သန်း |
| | ကုမ္ပဏီ၏အသုံးစရိတ် | - ကျပ် ၆၄၈.၆၇ သန်း |
| | ကုမ္ပဏီ၏အသားတင်အမြတ် (ဆဋ္ဌမနှစ်မြောက်) | - ကျပ် ၂၈၈.၉၃ သန်း |
| | CSR ၂ % | - ကျပ် ၅.၇၈ သန်း |
| ၁၀။ | နိုင်ငံတော်မှရရှိမည့် အကျိုးအမြတ် | |
| | ဝင်ငွေခွန် | - ကျပ် ၉၆.၃၁ သန်း |
| | အရင်းကြေကာလ | - ၆ နှစ် ၇ လ |
| | အရင်းအနှီးအပေါ်အကျိုးအမြတ်ပြန်ပေါ်နှုန်း (IRR) | - ၂၀ % |
| ၁၀။ | လျှပ်စစ်ဓါတ်အားသုံးစွဲမှု (နှစ်စဉ်) | - ၁၀၀ KVA |
| ၁၁။ | အခြားတင်ပြချက် | - ဒေါ်ဥမ္မာဟိန်း အမည်ဖြင့် မြေစာရင်းပုံစံ ၁၀၅(မိတ္တူ)၊ မြေပိုင်ရှင် ဒေါ်ဥမ္မာဟိန်း နှင့် GAC (Myanmar) Ltd. တို့ ချုပ်ဆိုမည့် မြေငှားစာချုပ်မူကြမ်း တင်ပြထားပါသည်။ |

| | | |
|---|---|---|
| ၁၂။ | စိစစ်တင်ပြချက် | - ဒေါ်ခိုင်လင်း၊ ဒေါ်ဥမ္မာဟိန်း နှင့် Mr. Berry Chang တို့ ချုပ်ဆိုမည့် ဖက်စပ်စာချုပ်မူကြမ်း တင်ပြထားပါသည်။<br>- GAC (Myanmar) Ltd.၏ MOA, AOA (မူကြမ်း) တင်ပြထားပါသည်။<br>- ဒါရိုက်တာစာရင်း၊ ဒါရိုက်တာအဖွဲ့ဝင်များ၏ မှတ်ပုံတင်မိတ္တူနှင့် Passport မိတ္တူများကိုတင်ပြထားပါသည်။<br>- ငွေကြေးအထောက်အထားအဖြစ် Bank of America တွင် Mr. Berry H T Chang အမည်ဖြင့် ၂၀၁၅ခုနှစ် ဇူလိုင်လ ၉ရက်နေ့အထိ အမေရိကန်ဒေါ်လာ ၄၇၂,၇၉၇.၆၁ ရှိကြောင်း၊ ကမ္ဘောဇဘဏ်တွင် ဒေါ်ဥမ္မာဟိန်း အမည်ဖြင့် ၂၀၁၆ ခုနှစ် စက်တင်ဘာလ ၈ ရက်နေ့အထိ ကျပ် ၁၂၀၁၄၇၀၄.၅၁ ရှိကြောင်းနှင့် ဧရာဝတီဘဏ်တွင် ဒေါ်ခိုင်လင်း အမည်ဖြင့် ၂၀၁၆ခုနှစ် အောက်တိုဘာလ ၄ ရက်နေ့အထိ ကျပ် ၂၂၀၇၅၁၁.၈၈ ရှိကြောင်းတင်ပြထားပါသည်။<br>- မီးဘေးကြိုတင်ကာကွယ်ရေး စီမံချက်၊ အလုပ်သမားများ လစာဝင်ငွေခွန်ပေးဆောင်မည်ဖြစ်ကြောင်း ဝန်ခံကတိပြုစာ၊ လျှပ်စစ်ဓာတ်အား အသုံးပြုမှု အစီအစဉ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သန့်ရှင်းသာယာရေး စီမံချက်၊ CSR အစီအစဉ်တို့ကို တင်ပြထားပါသည်။<br>- လုပ်ငန်းဆောင်ရွက်မည့် နည်းစနစ်နှင့် ထုတ်လုပ်မည့် ပစ္စည်း နမူနာပုံစံများ တင်ပြထားပါသည်။<br>- အဆိုပြုလုပ်ငန်းနှင့် လုပ်ငန်းတူအမျိုးအစား ၂ ခုအား ကော်မရှင်မှ ခွင့်ပြုမိန့် ထုတ်ပေးပြီးဖြစ်ပါသည်။ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Know-You Seed Myanmar Company Limited သို့ မျိုးစေ့များ စိုက်ပျိုးထုတ်လုပ်ခြင်း အဆင့်ဆင့်နှင့် ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ရန် ၁၇-၂-၂၀၁၆ ရက်နေ့တွင် ခွင့်ပြုမိန့်အမှတ် ၁၀၈၂/၂၀၁၆ ဖြင့်ခွင့်ပြုမိန့် ထုတ်ပေးခဲ့ပြီး ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် East-West Seed (Myanmar) Company Limited သို့ သုတေသနနှင့် ဖွံ့ဖြိုးရေးလုပ်ငန်း |

| | | |
|---|---|---|
| | | - စဉ်များဆောင်ရွက်ပြီး စိုက်ပျိုးရေးမျိုးစေ့များ ထုတ်လုပ်ခြင်း လုပ်ငန်းဆောင်ရွက်ရန် ၂၆-၃-၂၀၁၆ ရက်နေ့တွင် ခွင့်ပြုမိန့် အမှတ်၊ ၁၁၀၇/၂၀၁၆ ဖြင့် ခွင့်ပြုမိန့် ထုတ်ပေးခဲ့ပါသည်။<br>- ၁ US$=၁၂၀၀ ကျပ်နှုန်းဖြင့် တွက်ချက်ထားပါသည်။ |

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

# မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊မရက-၂/ န-၁၅၆/၂၀၁၇( ၃၇၇ )

ရက်စွဲ၊ ၂၀၁၇ ခုနှစ် မေလ ၁၁ ရက်

## မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြသည့်အမှာစာ

အကြောင်းအရာ။ ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် GAC (Myanmar) Limited မှ အာရေဗီကားကော်ဖီစေ့နှင့် ဟင်းသီးဟင်းရွက်မျိုးစေ့များ ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြု တင်ပြလာခြင်းကိစ္စ

၁။ ထိုင်ဝမ်နိုင်ငံသား Mr. Berry Chang မှ ၈၀% ၊ မြန်မာနိုင်ငံသား ဒေါ်ခိုင်လင်းမှ ၁၀% ၊ ဒေါ်ဥမ္မာဟိန်းမှ ၁၀% အစုရှယ်ယာများ ထည့်ဝင်ကာဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုအဖြစ် မြန်မာနိုင်ငံတွင် GAC (Myanmar) Limitedတည်ထောင်၍ မန္တလေးတိုင်းဒေသကြီး၊ ပြင်ဦးလွင်ခရိုင်၊ ပြင်ဦးလွင်မြို့နယ်၊ သက္ကံ-ချိုင်းကျေးရွာအုပ်စု၊ ကွင်းအမှတ် ၆၈၉၊ ဦးပိုင်အမှတ်၁၃၁-ဇ ရှိ မြေဧရိယာ (၄၆.၈၆) ဧကအား ငှားရမ်းပြီး အာရေဗီကားကော်ဖီစေ့နှင့် ဟင်းသီးဟင်းရွက် မျိုးစေ့များ ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်းအား နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီး မြှုပ်နှံမှုကော်မရှင်သို့ အဆိုပြု တင်ပြလာ ပါသည်။

၂။ အဆိုပြုချက်နှင့်အတူ GAC (Myanmar) Limited နှင့် မြေပိုင်ရှင် ဒေါ်ဥမ္မာဟိန်း တို့ကြား ချုပ်ဆိုမည့် မြေငှားရမ်းစာချုပ်(မူကြမ်း)၊ မြေအထောက်အထားများ၊ ဒေါ်ခိုင်လင်း၊ ဒေါ်ဥမ္မာဟိန်း နှင့် Mr. Berry Chang တို့ ချုပ်ဆိုမည့် ဖက်စပ်စာချုပ်(မူကြမ်း)တို့ကို တင်ပြထား ပါသည်။

၃။ လုပ်ငန်းဆောင်ရွက်မည့် မန္တလေးတိုင်းဒေသကြီး၊ ပြင်ဦးလွင်ခရိုင်၊ ပြင်ဦးလွင်မြို့နယ်၊ သက္ကံ-ချိုင်းကျေးရွာအုပ်စု၊ ကွင်းအမှတ် ၆၈၉၊ ဦးပိုင်အမှတ် ၁၃၁-ဇ ရှိ မြေဧရိယာ (၄၆.၈၆) ဧကအား တစ်နှစ်လျှင် တစ်နှစ်ငှားရမ်းခ US$ ၄,၀၀၀ ရရှိမည် ဖြစ်ပါသည်။

၄။ လုပ်ငန်းစီမံကိန်းကာလမှာ ကနဦး ၃၀ နှစ်နှင့် သက်တမ်းတိုး ၁၀ နှစ် ၂ ကြိမ်ဖြစ်ပါသည်။ တည်ဆောက်ရေးကာလ မှာ ၆ လ ဖြစ်ပါသည်။

၅။ လုပ်ငန်း၏ စုစုပေါင်း မတည်ငွေရင်းပမာဏမှာ အမေရိကန်ဒေါ်လာ ၁.၀၀ သန်းဖြစ်ပြီး တဖက်ပါအတိုင်း ထည့်ဝင်ထားပါသည်-

| | | ပြည်တွင်း | ပြည်ပ | US$ (သန်း) စုစုပေါင်း |
|---|---|---|---|---|
| (က) | ငွေသား | ၀.၁၉၆ | ၀.၆၀၁ | ၀.၇၉၇ |
| (ခ) | စက်ပစ္စည်း၊ကိရိယာများ | - | ၀.၁၉၉ | ၀.၁၉၉ |
| (ဂ) | မြေငှားရမ်းခ | ၀.၀၀၄ | - | ၀.၀၀၄ |
| | စုစုပေါင်း | ၀.၂၀၀ | ၀.၈၀၀ | ၁.၀၀၀ |

၆။ လုပ်ငန်းဆောင်ရွက်ရန်အတွက် ပြည်တွင်းဝန်ထမ်း(၁၈)ဦး ခန့်ထားမည်ဖြစ်ပါသည်။ ပြည်တွင်းဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ ကျပ် ၁၂၀,၀၀၀ ဖြစ်ပြီး အမြင့်ဆုံးလစာမှာ ကျပ် ၅၀၀,၀၀၀ ဖြစ်ပါသည်။

၇။ အဆိုပြုလုပ်ငန်းမှ ထွက်ရှိလာသော ပစ္စည်းများကို ပြည်ပသို့ ၁၀၀% ရောင်းချမည် ဖြစ်ပါသည်။ ပုံမှန်နှစ်(ဆဋ္ဌမမြောက်နှစ်) ထုတ်လုပ်မှုနှင့်ရောင်းချမှု ဈေးနှုန်းမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| စဉ် | ပစ္စည်း အမျိုးအစား | အရေအတွက် | ထုတ်လုပ်မှု | ရောင်းချ မည့်ဈေးနှုန်း (US$/Viss) |
|---|---|---|---|---|
| (က) | Coffee Seeds | Viss | ၁,၃၃၃ | ၅.၅၃ |
| | - Dry Coffee | | | (US$/ Kg) |
| (ခ) | Vegetable Seeds | Kg | ၂,၅၀၀ | ၆၀ |
| | Chili | Kg | ၁,၅၀၀ | ၆၀ |
| | Okra | Kg | ၁,၅၀၀ | ၆၀ |
| | Cucumber | Kg | ၁,၅၀၀ | ၆၀ |
| | Bitter Gourd | Kg | ၂,၀၀၀ | ၆၀ |
| | Tomato | Kg | ၂,၅၀၀ | ၆၀ |

၈။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ်(ဆဋ္ဌမမြောက်နှစ်)တွင် ကုမ္ပဏီမှရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| | | ကျပ် (သန်း) |
|---|---|---|
| (က) | ဝင်ငွေ | - ၉၃၇.၆၀ |
| (ခ) | အသုံးစရိတ် | - ၆၄၈.၆၇ |
| (ဂ) | အသားတင်အမြတ် | - ၂၈၈.၉၃ |

၉။ ဤလုပ်ငန်းကိုဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှ (ဆဋ္ဌမမြောက်နှစ်)တွင်ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ ဝင်ငွေခွန် ကျပ် ၉၆.၃၁ သန်း ဖြစ်ပါသည်။ လုပ်ငန်း၏ အရင်းကြေ ကာလမှာ ၆ နှစ် ၇ လ ဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ်ပြန်ပေါ်နှုန်း(IRR)မှာ ၂၀% ဖြစ်ပါသည်။

၁၀။ အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဦးစီးဌာန၊ ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာ ပူးပေါင်းလုပ်ငန်းအဖွဲ့၊ စိုက်ပျိုးရေး၊ မွေးမြူရေးနှင့်ဆည်မြောင်း ဝန်ကြီးဌာနတို့သို့ သဘောထားမှတ်ချက်များ တောင်းခံခဲ့ရာ အောက်ပါအတိုင်း သဘောထား ပြန်ကြား လာပါသည်-

(က) **မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့** မှ ရင်းနှီးမြှုပ်နှံမှု ပြုလုပ်မည့် တည်နေရာသည် နောင်ပြုလုပ်မည့် မြို့ပြစီမံကိန်းအား ထိခိုက်မှုမရှိပါကြောင်း၊ ယခုလက်ရှိအခြေအနေတွင် အလုပ်အကိုင် အခွင့်အလမ်းနှင့် ဒေသစီးပွားရေးဖွံ့ဖြိုးတိုးတက်မှုအတွက် အထောက် အကူပြုနိုင်ပါကြောင်း၊ အသုံးပြုမည့်နေရာအား စက်ရုံအတွက် သုံးစွဲခြင်းအပေါ် ဒေသခံ များအနေဖြင့်လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းမှုတို့အရ လက်ခံ နိုင်ခြင်းရှိပါကြောင်း၊ လုပ်ငန်းဆောင်ရွက်မည့် မြေနေရာသည် ဒေါ်ဥမ္မာဟိန်းအမည် ဖြင့် လယ်ယာမြေလုပ်ပိုင်ခွင့်ပြုလက်မှတ် ပုံစံ (၇) ရရှိထားသော ယာမြေအမျိုး အစား ဖြစ်ပါသဖြင့် လုပ်ငန်းဆောင်ရွက်နိုင်မည့် မြေနေရာ ဖြစ်ပါကြောင်းနှင့် (၉-၃-၂၀၁၇) ရက်နေ့တွင် ကျင်းပပြုလုပ်သည့် မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့ အစည်းအဝေး အမှတ်စဉ် (၄/၂၀၁၇)၊ ဆုံးဖြတ်ချက် အပိုဒ်-၄၆(ည) အရ ကန့်ကွက်ရန်မရှိပါကြောင်း သဘောထားပြန်ကြားထားပါသည်။ **(နောက်ဆက်တွဲ - က)**

(ခ) **သယံဇာတနှင့် သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးဝန်ကြီးဌာန** မှ အဆိုပြုလုပ်ငန်းများ ကြောင့်ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေးထိခိုက် ပျက်စီး မှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာအချက်အလက်များကို ပြည့်စုံစွာ ဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် နည်းစနစ်များအားအသုံးပြုရန်နှင့် အဆိုပြုလွှာတွင်ဖော်ပြထားသည့် လူမှုရေးဆိုင်ရာ တာဝန်ခံ ပူးပေါင်းဆောင်ရွက်မှု (Corporate Social Responsibility-CSR) အတွက် နှစ်စဉ်အမြတ်ငွေ၏ ၂% အား အသုံးပြုခြင်းအပါအဝင် ကတိကဝတ်များအား လိုက်နာအကောင်အထည်ဖော် ဆောင်ရွက်ရန်၊ အဆိုပြုလုပ်ငန်းများကြောင့် ပတ်ဝန်းကျင် နှင့် လူမှုရေးထိခိုက်မှု မဖြစ်ပေါ်စေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံး ဖြစ်စေ သည့် လုပ်ငန်းဆောင် ရွက်မည့်အစီအစဉ်၊ စွန့်ပစ်ပစ္စည်း/စွန့်ပစ်အရည် စီမံခန့်ခွဲမှု အစီအစဉ်၊ စောင့်ကြပ်ကြည့် ရှုစစ်ဆေးမည့်အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှုလျော့ပါးရေးဆောင်

ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေ စသည်တို့ပါဝင်သော ပတ်ဝန်းကျင် စီမံခန့်ခွဲမှုအစီအစဉ် (Enviromental Management Plan-EMP)အား ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းပါ အချက်အလက်များနှင့် အညီ အစီရင်ခံစာရေးသားတင်ပြရန်၊ ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံး လုပ်နည်းများ၊ အမျိုးသားပတ်ဝန်းကျင် ဆိုင်ရာ အရည်အသွေး(ထုတ်လွှတ်မှု) လမ်းညွှန်ချက်များနှင့်အညီ လိုက်နာဆောင်ရွက်ရန် သဘောထားပြန်ကြားထားပါသည်။ **(နောက်ဆက်တွဲ-ခ)**

**(ပတ်ဝန်းကျင် စီမံခန့်ခွဲမှုအစီအစဉ် (EMP) တို့ကို ဆောင်ရွက် သွားမည် ဖြစ်ကြောင်း တင်ပြထားပါ သည်။)**

(ဂ) **စိုက်ပျိုးရေးမွေးမြူရေးနှင့် ဆည်မြောင်းဝန်ကြီးဌာနမှ** အဆိုပြုတင်ပြသည့် မြေနေရာသည် မန္တလေးတိုင်းဒေသကြီး၊ ပြင်ဦးလွင်မြို့နယ်၊ သက္ကံ-ချိုင်းကျေးရွာအုပ်စု၊ ကွင်းအမှတ်-၆၈၉၊ ဦးပိုင်အမှတ် ၁၃၁-ဇ ၊ မြေဧရိယာ(၄၆.၈၆) ဧကဖြစ်ပြီး မြေအမျိုးအစားမှာ(ယာ)မြေအမျိုးအစား ဖြစ်ပါကြောင်း၊ အဆိုပါမြေနေရာအား ခရိုင်လယ်ယာမြေစီမံခန့်ခွဲမှုအဖွဲ့၏ (၁-၇-၂၀၁၄)ရက်နေ့ အစည်းအဝေးဆုံးဖြတ်ချက်(၁၁/၂၀၁၄) အရ ခရိုင်လယ်ယာမြေ စီမံခန့်ခွဲမှုအဖွဲ့၏ ခွင့်ပြုစာအမှတ်(၁၀၄/လယ-၁) ဖြင့် ဒေါ်ဉမ္မာဟိန်းအမည်ဖြင့် လယ်ယာမြေလုပ်ပိုင်ခွင့် လက်မှတ်ပုံစံ(၇)အား ထုတ်ပေးခဲ့ပြီးဖြစ်ကြောင်း၊ လက်ရှိမြေပေါ်တွင် ဧက ၃၀ ခန့်အား အရိပ်ရပင်နှင့် ကော်ဖီပင်များ စိုက်ပျိုးပြီး ကျန် ၁၆ဧကတွင် ရုံးခန်း ၁ခု၊ အလုပ်သမားတန်းလျား ၂ခု၊ ပျိုးစေ့ထုတ်အလုပ်ရုံ၁၂ခု ဆောက်လုပ်၍ မျိုးစေ့ထုတ်လုပ်များ ဆောင်ရွက်လျက်ရှိပါကြောင်းနှင့် အဆိုပြုတင်ပြထားသည့် မြေနေရာများသည် ၂၀၁၂ခုနှစ် လယ်ယာမြေဥပဒေအရ ဒေါ်ဉမ္မာဟိန်းအမည်ဖြင့် လယ်ယာမြေလုပ်ပိုင်ခွင့် ပြုလက်မှတ်ပုံစံ(၇) ရရှိထားပြီးဖြစ်သည့်အတွက် လယ်ယာမြေဥပဒေပုဒ်မ(၉)၊ အပိုဒ်ခွဲ(စ)အရ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ အကျိုးတူလုပ်ကိုင်ခွင့်အား ၂၀၁၂ခုနှစ် လယ်ယာမြေ ဥပဒေပုဒ်မ(၁၄)အရ နိုင်ငံတော်အစိုးရ၏ ခွင့်ပြုချက်ရယူ၍ ပုဒ်မ(၁၂)ပါ ပြဋ္ဌာန်းထားသော စည်းကမ်းချက်များနှင့်အညီ ဆောင်ရွက်ရမည်ဖြစ်ပါကြောင်း သဘောထားပြန်ကြားထားပါသည်။ **(နောက်ဆက်တွဲ - ဂ)**

၁၁။ ငွေကြေးအထောက်အထားအဖြစ် Bank of America တွင် Mr. Berry H T Chang အမည်ဖြင့် ၂၀၁၅ခုနှစ် ဇူလိုင်လ ၉ ရက်နေ့အထိ အမေရိကန်ဒေါ်လာ၄၇၂,၇၉၇.၆၁ရှိကြောင်း၊ ကမ္ဘောဇဘဏ်တွင် ဒေါ်ဉမ္မာဟိန်း အမည်ဖြင့် ၂၀၁၆ ခုနှစ် စက်တင်ဘာလ ၈ ရက်နေ့အထိ ကျပ် ၁၂၀၁၄၇၀၄.၅၁ ရှိကြောင်းနှင့် ရောဝတီဘဏ်တွင် ဒေါ်ခိုင်လင်း အမည်ဖြင့် ၂၀၁၆ခုနှစ် အောက်တိုဘာလ ၄ ရက်နေ့

အထိ ကျပ် ၂၂၀၇၅၁၁.၈၈ ရှိကြောင်းတင်ပြထားပါသည်။ဒါရိုက်တာအဖွဲ့ဝင်များ၏ Passport မိတ္တူများနှင့် နိုင်ငံသား မှတ်ပုံတင် မိတ္တူ များကို တင်ပြထားပါသည်။

၁၂။ GAC (Myanmar) Limited မှ တည်နေရာပြမြေပုံ၊ လုပ်ငန်းသဘော သဘာဝရှင်းလင်းချက်၊ ရေနှင့်လျှပ်စစ်ဓါတ်အား ရယူသုံးစွဲမည့်အစီအစဉ်၊ မီးဘေးကြိုတင်ကာကွယ်ရေး စီမံချက်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သန့်ရှင်းသာယာရေးစီမံချက် အစီအစဉ်၊ လုပ်ငန်းခွင်သာယာ ရေးအတွက် ဆောင်ရွက်ထားရှိမှု၊ ကျန်းမာရေးနှင့်လုပ်ငန်းခွင် အန္တရာယ်ကင်းရှင်းရေး ဆောင်ရွက်ထားရှိမှု၊ ဝန်ထမ်းများအတွက်ကျန်းမာရေး၊ လူမှုရေးစောင့်ရှောက်ထားရှိမည့် အစီအစဉ်များ ကတိဝန်ခံချက် တို့ကို တင်ပြထားပါသည်။

၁၃။ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေပါ အခွန်ဆိုင်ရာကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုပါရန် တင်ပြထားပါသည်။

၁၄။ အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ၂၀၁၆ ခုနှစ် အောက်တိုဘာလ ၁၇ ရက်နေ့တွင် ကျင်းပသော ၃၈/၂၀၁၆ ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။

၁၅။ **စိစစ်တင်ပြချက်**

(က) အဆိုပြုလုပ်ငန်းနှင့် လုပ်ငန်းတူအမျိုးအစား ၂ ခုအား ကော်မရှင်မှ ခွင့်ပြုမိန့် ထုတ်ပေးပြီးဖြစ်ပါသည်။ ဖက်စပ် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Know -You Seed Myanmar Company Limited သို့ မျိုးစေ့များ စိုက်ပျိုးထုတ်လုပ်ခြင်း အဆင့်ဆင့်နှင့်ရောင်းချခြင်း လုပ်ငန်း ဆောင်ရွက်ရန် ၁၇-၂-၂၀၁၆ ရက်နေ့တွင် ခွင့်ပြုမိန့်အမှတ် ၁၀၈၂/၂၀၁၆ ဖြင့်ခွင့်ပြုမိန့် ထုတ်ပေးခဲ့ပြီး ရာခိုင်နှုန်းပြည့် နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် East-West Seed(Myanmar) Company Limited သို့ သုတေသနနှင့် ဖွံ့ဖြိုးရေးလုပ်ငန်းစဉ်များဆောင်ရွက်ပြီး စိုက်ပျိုးရေးမျိုးစေ့များ ထုတ်လုပ် ခြင်း လုပ်ငန်း ဆောင်ရွက်ရန် ၂၆-၃-၂၀၁၆ ရက်နေ့တွင် ခွင့်ပြုမိန့်အမှတ်၊ ၁၁၀၇/၂၀၁၆ ဖြင့် ခွင့်ပြုမိန့် ထုတ်ပေးခဲ့ပါသည်။

(ခ) ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများ ညွှန်ကြားမှုဦးစီးဌာန၊ မူဝါဒနှင့် ဥပဒေရေးရာဌာနခွဲမှ ကော်မရှင်ခွင့်ပြုမိန့်နှင့် ဆုံးဖြတ် ချက်(မူကြမ်း)အား ဥပဒေနှင့်ညီညွတ်မှုရှိကြောင်း စိစစ်ပြီးဖြစ်ပါသည်။

(ဂ) အဆိုပြုလုပ်ငန်းသည် ကော်မရှင်၏ အမိန့်ကြော်ငြာစာအမှတ် ၁၂၃/၂၀၁၆ (၁၆-၁၁-၂၀၁၆)အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ အဆိုပြုလုပ်ငန်း ဆောင်ရွက်ခွင့်ကို ၂၁-၁၂-၂၀၁၆ ရက်စွဲဖြင့် တင်ပြခဲ့ပြီး ၎င်းဥပဒေအရ အခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့် ခံစားခွင့်ပြုရန် တင်ပြထား ပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၆။ ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် GAC (Myanmar) Limited တည်ထောင်၍ အာရေဗီကားကော်ဖီစေ့နှင့် ဟင်းသီးဟင်းရွက်မျိုးစေ့များ ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုတင်ပြလာခြင်း အပေါ် ခွင့်ပြုရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(မြသူဇာ၊ တွဲဖက်အတွင်းရေးမှူး)

မိတ္တူကို
ရုံးလက်ခံ/မျှောစာတွဲ



D:\Proposal File\GAC Myanmar\MIC\MIC -Memo.doc

# ကုမ္ပဏီဒါရိုက်တာနှင့် အစုရှင်များ၏ နေရပ်လိပ်စာစာရင်း

| စဉ် | ကုမ္ပဏီအမည် | ဒါရိုက်တာ/ အစုရှင်များ၏ အမည် | ဒါရိုက်တာ/ အစုရှင်များ၏ ဆက်သွယ်ရန် လိပ်စာ |
|---|---|---|---|
| ၁။ | GAC (Myanmar) Limited | (က)Daw Khine Lin<br>Director<br>Myanmar<br>12/Ka Ma Ya (Naing) 044506 | No.24, May Li Kha Street, Ward No.7, Mayangone, Yangon |
| | | (ခ) Mr. Berry Chang<br>Director<br>Taiwan<br>PP No.TWM309875591 | No.30, 207, Sukhumvit Soi 39, Sukhumvit Road, Kinogtannua,Bangkok 10110 |
| | | (ဂ) Daw Ohnmar Hein<br>Director<br>Myanmar<br>12/La Ma Ta (Naing) 015776 | No.53/55, Lanmadaw Street, Ward No.7, Lanmadaw Township, Yangon |

၁။ ဆက်သွယ်ရမည့် တယ်လီဖုန်းနံပါတ်၊ ဖက်စ်နံပါတ် - ၀၁-၆၅၅၉၂၉

၂။ ဆက်သွယ်ရမည့် လိပ်စာအပြည့်အစုံ - အမှတ်-၂၄၊ မေလိခလမ်း၊ အမှတ်-၇ ရပ်ကွက်၊ မရမ်းကုန်းမြို့နယ်၊ ရန်ကုန်မြို့

၃။ ဆက်သွယ်ရမည့် ပုဂ္ဂိုလ်အမည်၊ ရာထူး - ဒေါ်ခိုင်လင်း
ဒါရိုက်တာ

၄။ ကုမ္ပဏီအနေဖြင့်ဆောင်ရွက်သည့် လုပ်ငန်းများ - အာရေဗီကားကော်ဖီစေ့နှင့်ဟင်းသီးဟင်းရွက် မျိုးစေ့များ ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်း

၅။ ကုမ္ပဏီမှတ်ပုံတင်အမှတ်/ နေ့စွဲ - -

၆။ ကုမ္ပဏီမှတ်ပုံတင်ကုန်ဆုံးသည့်နေ့စွဲ - -

၇။ ဘဏ်အမည်နှင့် ဘဏ်စာရင်းအမှတ် - -

MIC ... ၁၁/၁၃

နောက်ဆက်တွဲ-က



ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့
မန္တလေးမြို့

စာအမှတ်၊ ၂ / ၃ - ၆ / ၃၂ ဦး ၆ (၁၅၀)
ရက် စွဲ ၊ ၂၀၁၇ ခုနှစ်၊ မတ် လ ၂၈ ရက်



သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့

အကြောင်းအရာ ။ **သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၂၅ - ၁၀- ၂၀၁၆ )ရက်စွဲပါစာအမှတ်၊ မရက- ၂ / န - ၁၅၆ / ၂၀၁၆ ( ၈၀၁)

၁။ ထိုင်ဝမ်နိုင်ငံသား Mr. Berry Chang မှ ၈၀ % နှင့် မြန်မာနိုင်ငံသား ဒေါ်ခိုင်လင်းမှ ၁၀%၊ ဒေါ်ဥမ္မာဟိန်းမှ ၁၀ % အစုရှယ်ယာများ ထည့်ဝင်ကာ ဖက်စပ် နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှု အဖြစ် မြန်မာနိုင်ငံတွင် GAC Myanmar L.td တည်ထောင်၍ ပြင်ဦးလွင်မြို့နယ်၊သက္ကံ-ချိုင်းကျေးရွာအုပ်စု၊ ဦးပိုင်အမှတ်၁၃၁-ဓ၊ အကွက်အမှတ်(၆၈၉)၊ မြေဧရိယာ (၄၆.၈၆) ဧကအား ငှားရမ်းပြီး အာရေဗီကား ကော်ဖီမျိုးစေ့နှင့် ဟင်းသီးဟင်းရွက်မျိုးစေ့များ စိုက်ပျိုးထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းအား ဆောင်ရွက်မည့်အပေါ် တိုင်းဒေသကြီးအစိုးရအဖွဲ့သဘောထားအား ရက်သတ္တပတ်တစ်ပတ်အတွင်း ပြန်ကြားပေးပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ရည်ညွှန်းချက်ပါစာဖြင့် ညှိနှိုင်းအကြောင်းကြားလာပါသည်။

၂။ ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် မြေနေရာနှင့်ပတ်သက်၍ ကွင်းဆင်းစစ်ဆေး ဆောင်ရွက်ခဲ့ရာ အောက်ပါအတိုင်း စိစစ်တွေ့ရှိရပါသည် -

(က) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် တည်နေရာသည်နောင်ပြုလုပ်မည့် မြို့ပြစီမံကိန်းအားထိခိုက်မှု မရှိပါကြောင်း ၊

( ခ ) ယခုလက်ရှိအခြေအနေတွင် အလုပ်အကိုင်အခွင့်အလမ်းနှင့် ဒေသစီးပွားရေးဖွံ့ဖြိုးတိုးတက်မှုအတွက် အထောက်အကူပြုနိုင်ပါကြောင်း၊

( ဂ ) အသုံးပြုမည့်နေရာအား စက်ရုံအတွက် သုံးစွဲခြင်းအပေါ် ဒေသခံများအနေဖြင့် လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ခြင်းရှိပါကြောင်း၊

( ဃ ) လုပ်ငန်းဆောင်ရွက်မည့်မြေနေရာသည် ဒေါ်ဥမ္မာဟိန်းအမည်ဖြင့် လယ်ယာမြေလုပ်ပိုင်ခွင့်ပြုလက်မှတ်ပုံစံ(၇)ရရှိထားသော ယာမြေအမျိုးအစားဖြစ်ပါသဖြင့် လုပ်ငန်းဆောင်ရွက်နိုင်မည့် မြေနေရာဖြစ်ပါကြောင်းစိစစ်တွေ့ရှိ ရပါသည်။

tt59

၃။ သို့ဖြစ်ပါ၍ GAC Myanmar L.td မှ ပြင်ဦးလွင်မြို့နယ်၊ သက္ကံ့-ချိုင်းကျေးရွာအုပ်စု၊ ဦးပိုင်အမှတ် ၁၃၁-ဓ၊ အကွက်အမှတ်(၆၈၉)၊ မြေဧရိယာ ၄၆.၈၆ ဧက( ၁၈၉၆၃၅.၈၆ စတုရန်းမီတာ ) အားငှားရမ်းပြီး အာရေဗီကားကော်ဖီမျိုးစေ့နှင့် ဟင်းသီးဟင်းရွက်မျိုးစေ့များ စိုက်ပျိုးထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းအား ဆောင်ရွက်မည့်အပေါ် ( ၉-၃-၂၀၁၇ )ရက်နေ့တွင် ကျင်းပပြုလုပ်သည့် မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့အစည်းအဝေး အမှတ်စဉ်(၄/ ၂၀၁၇)၊ ဆုံးဖြတ်ချက် အပိုဒ်-၄၆ (ည) အရ ကန့်ကွက်ရန်မရှိပါကြောင်း ပြန်ကြားအပ်ပါသည်။

28/3

ဒေါက်တာဇော်မြင့်မောင်
ဝန်ကြီးချုပ်

မိတ္တူကို

လှည့်လည်စာတွဲ ၊
ရုံးလက်ခံ ။

MIC 1 339 / 27/10




ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့
ရန်ကုန်မြို့
စာအမှတ်၊ဝ၀၁/ MIC(OSS) /ဝ၁( ၂၃၇/၁၆)
ရက်စွဲ၊ ၂၀၁၆ ခုနှစ် အောက်တိုဘာလ ၂၇ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ GAC Myanmar Ltd. မှ အာရေဗီကားကော်ဖီမျိုးစေ့နှင့် ဟင်းသီး ဟင်းရွက် မျိုးစေ့များ စိုက်ပျိုးထုတ်လုပ် ရောင်းချခြင်းလုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့် ပတ်သက်၍ သဘောထား မှတ်ချက်ပြန်ကြားခြင်း

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၀-၁၀-၂၀၁၆ ရက်စွဲပါစာအမှတ်၊ မရက-၂/ န-၁၅၆/ ၂၀၁၆(၇၈၀)

၁။ ထိုင်ဝမ်နိုင်ငံသား Mr. Berry Chang မှ ၈၀% နှင့် မြန်မာနိုင်ငံသား ဒေါ်ခိုင်လင်းမှ ၁၀%၊ ဒေါ်ဥမ္မာဟိန်းမှ ၁၀% အစုရှယ်ယာများထည့်ဝင်ကာ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံတွင် GAC Myanmar Ltd. တည်ထောင်၍ ဦးပိုင်အမှတ် ၁၃၁-ဇ၊ အကွက်အမှတ် ၆၈၉၊ သက္ကံ-ချိုင်း ကျေးရွာအုပ်စု၊ ပြင်ဦးလွင်မြို့နယ်၊ ပြင်ဦးလွင်ခရိုင်၊ မန္တလေးတိုင်းဒေသကြီးရှိ စုစုပေါင်း မြေ ၄၆.၈၆ ဧက (၁၈၉၆၃၅.၈၆ စတုရန်းမီတာ)ကို ငှားရမ်း၍ အာရေဗီကားကော်ဖီမျိုးစေ့နှင့် ဟင်းသီး ဟင်းရွက်မျိုးစေ့များ စိုက်ပျိုးထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းကိုဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့်ပတ်သက်၍ စီစစ်ပြီး သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့်အကြောင်းကြားလာပါသည်။

၂။ ပူးတွဲပေးပို့လာသောအဆိုပြုလွှာတွင် ရင်းနှီးမြှုပ်နှံမှုကာလမှာ ကနဦးနှစ် (၃၀) ဖြစ်ပြီး၊ တည်ဆောက်ရေးကာလမှာ (၆) လဖြစ်ကြောင်း၊ မီးဘေးကာကွယ်ရေးအစီအစဉ်များကိုလည်း ထည့်သွင်းဆောင်ရွက်သွားမည်ဖြစ်ကြောင်း၊ လုပ်ငန်းမှ ရရှိလာမည့်အသားတင်အမြတ်ငွေ၏ (၂%)ကို လူမှုရေးဆိုင်ရာတာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility-CSR) လုပ်ငန်းများတွင် ထည့်ဝင်အသုံးပြုသွားမည်ဖြစ်ကြောင်း ဖော်ပြပါရှိပါသည်။ သဘာဝပတ်ဝန်း

ကျင်ထိန်းသိမ်းရေးနှင့်ပတ်သက်၍ မြေဆီလွှာထိခိုက်ပျက်စီးမှုမရှိစေရေးနှင့် သဘာဝပတ်ဝန်းကျင်ထိခိုက်မှုမရှိစေရန် ထိန်းသိမ်းဆောင်ရွက်သွားမည်ဖြစ်ကြောင်း ဖော်ပြပါရှိပါသည်။

၃။ GAC Myanmar Ltd. မှ ကော်ဖီမျိုးစေ့နှင့် ဟင်းသီးဟင်းရွက်မျိုးစေ့များ စိုက်ပျိုးထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းများဆောင်ရွက်ရာတွင်မြေရှင်းခြင်း၊ သစ်ပင်ခုတ်ခြင်းလုပ်ငန်းများကြောင့် အပင်နှင့်တိရစ္ဆာန်တို့၏ ဂေဟစနစ်များထိခိုက်ပျက်စီးခြင်း၊ အသုံးပြုမည့်ပိုးသတ်ဆေးနှင့်ဓါတ်မြေဩဇာများသည် ပတ်ဝန်းကျင်၌ ကြာရှည်စွာတည်ရှိနိုင်ပြီး ပါဝင်သော Chemical composition များအပေါ်မူတည်၍ အစာကွင်းဆက်များအတွင်းရောက်ရှိကာ ပတ်ဝန်းကျင်ရှိ တိရစ္ဆာန်များအား ထိခိုက်စေနိုင်ခြင်း၊ ပိုးသတ်ဆေးများအား စနစ်တကျကိုင်တွယ်ခြင်းမရှိပါက အလုပ်သမားများ၏ကျန်းမာရေးကို ထိခိုက်စေနိုင်ခြင်း၊ မြေအောက်ရေများထုတ်ယူသုံးစွဲမှုကြောင့်မြေမျက်နှာပြင်ပြောင်းလဲနိမ့်ဆင်းမှုဖြစ်ပေါ်နိုင်ခြင်း စသည့်ပတ်ဝန်းကျင်ဆိုင်ရာ ထိခိုက်မှုပြဿနာများ ဖြစ်ပေါ်စေနိုင်ပါသည်။

၄။ သို့ဖြစ်ပါ၍ GAC Myanmar Ltd. မှ အာရေဗီကားကော်ဖီမျိုးစေ့နှင့် ဟင်းသီးဟင်းရွက်မျိုးစေ့များ စိုက်ပျိုးထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းကို ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့်ပတ်သက်၍ အောက်ပါအတိုင်းသဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်-

(က) အဆိုပြုလုပ်ငန်းများကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေး ထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာ အချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှုအနည်းဆုံးဖြစ်စေမည့် နည်းစနစ်များအား အသုံးပြုရန်နှင့် အဆိုပြုလွှာတွင် ဖော်ပြထားသည့် လူမှုရေးဆိုင်ရာတာဝန်ခံဆောင်ရွက်မှု ( Corporate Social Responsibility-CSR ) အတွက် အသားတင်အမြတ်ငွေ၏ (၂%) အား အသုံးပြုခြင်းအပါအဝင် ကတိကဝတ်များအား လိုက်နာအကောင်အထည်ဖော်ဆောင်ရွက်ရန်။

( ခ ) အဆိုပြုလုပ်ငန်းများကြောင့် ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက်မှုမဖြစ်ပေါ်စေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေသည့် လုပ်ငန်းဆောင်ရွက်မည့် အစီအစဉ်

စွန့်ပစ်ပစ္စည်း / စွန့်ပစ်အရည်စီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြပ်ကြည့်ရှု စစ်ဆေးမည့်အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှုလျော့ပါးစေရေး ဆောင်ရွက်မည့်လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေ စသည်တို့ပါဝင်သည့် **ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ်** (Environmental Management Plan– EMP) အား ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းပါ အချက်အလက်များနှင့်အညီ အစီရင်ခံစာရေးသားတင်ပြရန်။

(ဂ) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများ၊ အမျိုးသားပတ်ဝန်းကျင်ဆိုင်ရာအရည်အသွေး (ထုတ်လွှတ်မှု) လမ်းညွှန်ချက်များနှင့်အညီ လိုက်နာဆောင်ရွက်ရန်။

(ဃ) သက်ဆိုင်ရာတိုင်းဒေသကြီးအစိုးရအဖွဲ့၏ ကြီးကြပ်ကွပ်ကဲမှုဖြင့် ဒေသခံပြည်သူများ၏ဆန္ဒနှင့်သဘောထားများ ရယူဆောင်ရွက်ရန်။

(ဇော်မိုး)
ဒုတိယညွှန်ကြားရေးမှူး
အဖွဲ့ခေါင်းဆောင်
ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့

မိတ္တူကို

ပြည်ထောင်စုဝန်ကြီးရုံး
သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ သစ်တောဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့သစ်လုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ရန်ကုန်တိုင်းဒေသကြီး
ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ မန္တလေးတိုင်းဒေသကြီး
ရုံးလက်ခံ



# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
# စိုက်ပျိုးရေး၊ မွေးမြူရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန
# ဝန်ကြီးရုံး

MPT-3118
16.11.2016

စာအမှတ်၊ ၁၁ / GAC (၇၁၇/၂၀၁၆)(လဆ)
ရက်စွဲ၊၂၀၁၆ ခုနှစ်၊ နိုဝင်ဘာလ ၁၅ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ သဘောထားမှတ်ချက်တောင်းခံခြင်း

ရည်ညွှန်းချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏(၂၅.၁၀.၂၀၁၆)ရက်စွဲပါ စာအမှတ်၊ မရက-၂/ န-၁၅၆/ ၂၀၁၆ (၇၉၉)

၁။ ထိုင်ဝမ်နိုင်ငံသား Mr. Berry Chang မှ ၈၀% နှင့် မြန်မာနိုင်ငံသား ဒေါ်ခိုင်လင်းမှ ၁၀%၊ ဒေါ်ဥမ္မာဟိန်းမှ၁၀% အစုရှယ်ယာများထည့်ဝင်ကာ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံတွင် GAC Myanmar Ltd. တည်ထောင်၍ ဦးပိုင်အမှတ် ၁၃၁-ဓ၊ အကွက်အမှတ် ၆၈၉၊ သက္ကံ-ချိုင်းကျေးရွာအုပ်စု၊ ပြင်ဦးလွင်မြို့နယ်၊ ပြင်ဦးလွင်ခရိုင်၊ မန္တလေးတိုင်းဒေသကြီးရှိ စုစုပေါင်းမြေ ၄၆.၈၆ ဧက (၁၈၉၆၃၅.၈၆ စတုရန်းမီတာ) ကို ငှားရမ်း၍ အာရေဗီကားကော်ဖီမျိုးစေ့နှင့် ဟင်းသီးဟင်းရွက်မျိုးစေ့များ စိုက်ပျိုးထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း အား ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် (MIC) သို့ အဆိုပြုတင်ပြလာသည့် ကိစ္စနှင့်စပ်လျဉ်း၍ စိုက်ပျိုးရေး၊ မွေးမြူရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန ၏ သဘောထားကို ပြန်ကြားပေးပါရန် MIC မှ ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းမေတ္တာရပ်ခံလာပါသည်။

၂။ ယင်းကိစ္စနှင့်ပတ်သက်၍ အဆိုပြုတင်ပြလာသော မြေနေရာအား စိစစ်ခဲ့ရာ အောက်ပါအတိုင်းတွေ့ရှိရပါသည်-

(က) အဆိုပြုတင်ပြသည့် မြေနေရာသည် မန္တလေးတိုင်းဒေသကြီး၊ ပြင်ဦးလွင်မြို့နယ်၊ သက္ကံချိုင်းကျေးရွာအုပ်စု၊ ကွင်းအမှတ်(၆၈၉)ဦးပိုင်အမှတ်(၁၃၁/ဓ)၊ မြေဧရိယာ(၄၆.၈၆)ကေဖြစ်ပြီး၊ မြေအမျိုးအစားမှာ(ယာ)မြေအမျိုးအစားဖြစ်ပါကြောင်း၊

(ခ) အဆိုပါမြေနေရာအားခရိုင်လယ်ယာမြေစီမံခန့်ခွဲမှုအဖွဲ့၏ (၁.၇.၂၀၁၄)ရက်နေ့ အစည်းအဝေးဆုံးဖြတ်ချက်(၁၁/၂၀၁၄) အရ ခရိုင်လယ်ယာမြေစီမံခန့်ခွဲမှုအဖွဲ့၏ ခွင့်ပြုစာအမှတ် (၁၀၄/လယ-၁) ဖြင့် ဒေါ်ဥမ္မာဟိန်း အမည်ဖြင့် လယ်ယာမြေလုပ်ပိုင်ခွင့်လက်မှတ်ပုံစံ(၇)အား ထုတ်ပေးခဲ့ပြီးဖြစ်ကြောင်းတွေ့ရှိရပါကြောင်း၊

(ဂ) လက်ရှိမြေပြင်ပေါ်တွင် ဧက(၃၀)ခန့်အား အရိပ်ရပင်နှင့်ကော်ဖီပင်များစိုက်ပျိုးထားပြီး ကျန် (၁၆)ဧကတွင် ရုံးခန်း(၁)ခု၊ အလုပ်သမားတန်းလျား (၂)ခု၊ ပျိုးစေ့ထုတ် အလုပ်ရုံ(၁၂)ခု ဆောက်လုပ်၍ မျိုးစေ့ထုတ်လုပ်ငန်းများ ဆောင်ရွက်လျက်ရှိပါကြောင်း။

၃။ သို့ဖြစ်ပါ၍ GAC Myanmar Ltd. မှ ပြင်ဦးလွင်မြို့နယ်၊ သက္ကံချိုင်း ကျေးရွာအုပ်စု၊ ကွင်းအမှတ် (၆၈၉)၊ ဦးပိုင်အမှတ် (၁၃၁/ခ)၊ မြေဧရိယာ (၄၆.၈၆)ဧက အား ငှားရမ်း၍ အာရေဗီးကား ကော်ဖီမျိုးစေ့နှင့်ဟင်းသီးဟင်းရွက်မျိုးစေ့များ စိုက်ပျိုးထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းကို နိုင်ငံခြားရင်းနှီး မြှုပ်နှံမှုဥပဒေ အရ ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြု တင်ပြသည့်မြေ နေရာများသည် ၂၀၁၂ ခုနှစ် လယ်ယာမြေဥပဒေအရ ဒေါ်ဥမ္မာဟိန်း အမည်ဖြင့် လယ်ယာမြေ လုပ်ပိုင်ခွင့်ပြု လက်မှတ်ပုံစံ( ၇ ) ရရှိထားပြီးဖြစ်သည့်အတွက် လယ်ယာမြေဥပဒေပုဒ်မ(၉)၊ အပိုဒ်ခွဲ(စ)အရ နိုင်ငံခြားရင်းနှီး မြှုပ်နှံမှုဥပဒေ နှင့် အညီ အကျိုးတူလုပ်ကိုင်ခွင့်အား ၂၀၁၂ ခုနှစ် လယ်ယာမြေဥပဒေပုဒ်မ (၁၄) အရ နိုင်ငံတော် အစိုးရ၏ ခွင့်ပြုချက်ရယူ၍ ပုဒ်မ(၁၂)ပါ ပြဋ္ဌာန်းထားသော စည်းကမ်းချက်များနှင့်အညီ ဆောင်ရွက်ရမည် ဖြစ်ပါကြောင်း စိစစ်တွေ့ရှိရမှုအခြေအနေအား ပြန်ကြားအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
(သက်နိုင်ဦး၊ ဒုတိယအမြဲတမ်းအတွင်းဝန်)

မိတ္တူ
- ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၊
- ညွှန်ကြားရေးမှူးချုပ်(ရုံးခန်း)၊ စီမံကိန်းဦးစီးဌာန၊
- ညွှန်ကြားရေးမှူးချုပ်၊ စိုက်ပျိုးရေးဦးစီးဌာန၊
- ညွှန်ကြားရေးမှူးချုပ်၊ လယ်ယာမြေစီမံခန့်ခွဲရေး နှင့် စာရင်းအင်းဦးစီးဌာန၊
- ရုံးလက်ခံ
- မျှောစာတွဲ